ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက-၃/ခ-၁၀၆/၂၀၁၈( ၀၀၅ )
ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဇန်နဝါရီလ ၂၆ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြမည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Saturn and Fortune Co.,Ltd. တည်ထောင်ကာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ရေချိုးခန်းသုံး ပစ္စည်းနှင့်ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့် ပြုပါရန်အဆိုပြုချက်တင်ပြခြင်းကိစ္စ**

၁။ ကိုရီးယားသမ္မတနိုင်ငံရှိ Saturnbath Co.,Ltd.မှ အစုရှယ်ယာ (၅၀%)နှင့်မြန်မာနိုင်ငံရှိ Fortune International Limited မှ အစုရှယ်ယာ (၅၀%) တို့သည် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Saturn and Fortune Co., Ltd. တည်ထောင်ကာ မြေကွက်အမှတ်- (၈၅)၊ မြေတိုင်းရပ်ကွက်အမှတ်- ဇုန်(၁)၊ လှိုင်သာယာစက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ(၁.၉၈၈)ဧကတွင် ရေချိုးခန်းသုံးပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဒေါ်ခင်စပယ်ကြည် နှင့် Saturn and Fortune Co., Ltd. တို့ကြားချုပ်ဆိုမည့် မြေနှင့်အဆောက်အဦ ငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း)၊ မြေဆိုင်ရာ အထောက်အထားများ၊ အဆောက်အဦဓာတ်ပုံများ၊ ထုတ်လုပ်မှုပစ္စည်း နမူနာဓာတ်ပုံများအား ပူးတွဲတင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၂၀နှစ် ငှားရမ်းမည်ဖြစ်ပြီး နောက်ထပ် ၁၀နှစ် သက်တမ်းတိုးမည်ဖြစ်ပါသည်။ စုစုပေါင်းမြေ ၁.၉၈၈ ဧက (၈၀၄၅.၁၆ စတုရန်းမီတာ) အား ငှားရမ်း၍ နှစ်စဉ်မြေနှင့်အဆောက်အဦငှားရမ်းခမှာ US$ ၁၀၀,၃၁၀.၃၅ ဖြစ်ပြီး (၁) နှစ် တစ်စတုရန်းမီတာလျှင် US$ ၁၂.၄၇ နှုန်းဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၃၀နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁၈လကြာမြင့်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ US$ ၅.၅ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

| | **မြန်မာ (၅၀%)** | **နိုင်ငံခြား (၅၀%)** | **စုစုပေါင်း (US$/သန်း)** |
|---|---|---|---|
| ငွေသား | ၀.၄၃၉ | ၀.၄၈၉ | ၀.၉၂၈ |
| စက်ပစ္စည်းကိရိယာတန်ဖိုး (ပြည်ပ) | - | ၁.၉၁၁ | ၁.၉၁၁ |
| မော်တော်ယာဉ်တန်ဖိုး (ပြည်ပ) | - | ၀.၀၅၀ | ၀.၀၅၀ |
| အဆောက်အဦတန်ဖိုး | ၀.၃၀၀ | ၀.၃၀၀ | ၀.၆၀၀ |
| ရုံးသုံးပစ္စည်းတန်ဖိုး | ၀.၀၀၅ | - | ၀.၀၀၅ |
| မြေငှားရမ်းခ | ၂.၀၀၆ | - | ၂.၀၀၆ |
| **စုစုပေါင်း** | ၂.၇၅၀ | ၂.၇၅၀ | ၅.၅၀၀ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၈၀ ဦးနှင့် ပြည်ပ ဝန်ထမ်း ၃ ဦးခန့် ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာ ကျပ် ၆၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၁,၀၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှထွက်ရှိသောရေချိုးခန်းသုံးပစ္စည်းနှင့်ဆက်စပ်ပစ္စည်းများကို ပြည်တွင်းတွင် ၂၀% ရောင်းချ၍ ပြည်ပသို့ ၈၀% တင်ပို့မည်ဖြစ်ပါသည်။ ပထမနှစ်နှင့် ဒုတိယနှစ် တွင် ပြည်ပသို့ ၁၀၀% တင်ပို့မည်ဖြစ်ပြီး တတိယနှစ်မှ စတင်၍ ပြည်တွင်းတွင် ၂၀% ရောင်းချ၍ ပြည်ပသို့ ၈၀% တင်ပို့ ရောင်းချမည်ဖြစ်ပါသည်။ တတိယနှစ်တွင် ထုတ်လုပ်မှု အရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | **ပြည်ပ (၈၀%)** | | **ပြည်တွင်း (၂၀%)** | |
|---|---|---|---|---|
| | **ရောင်းချမှု အရေအတွက် (Unit)** | **ရောင်းဈေးနှုန်း (US$/Unit)** | **ရောင်းချမှု အရေအတွက် (Unit)** | **ရောင်းဈေးနှုန်း (Kyat/Unit)** |
| ACRYL Bathtub SB-1125 | ၁၃,၆၀၀ | ၁၄၅ | ၃,၄၀၀ | ၁၈၀,၀၀၀ |
| ACRYL Bathtub SB-1904 | ၁၃,၆၀၀ | ၁၄၅ | ၃,၄၀၀ | ၁၈၀,၀၀၀ |
| ACRYL Bathtub Apron | ၃၁,၂၉၀ | ၄၁ | ၇,၈၂၂ | ၅၀,၁၀၀ |
| Bathtub SBL-1401 | ၆၄၀ | ၈၈၂ | ၁၆၀ | ၁,၁၀၃,၀၀၀ |
| Bathtub SBL-1601 | ၆၄၀ | ၁,၁၇၀ | ၁၆၀ | ၁,၄၆၃,၀၀၀ |
| Bathtub SBL-1904 | ၆၄၀ | ၁,၃၀၅ | ၁၆၀ | ၁,၆၃၂,၀၀၀ |
| Wash Basin SWL-0024-2 | ၄၈၀ | ၁,၁၃၄ | ၁၂၀ | ၁,၄၁၈,၀၀၀ |
| Wash Basin SWL-0023 | ၅၆၀ | ၄၉၅ | ၁၄၀ | ၆၁၉,၀၀၀ |
| Wash Basin SWL-0083 | ၅၇၃ | ၂၂၅ | ၁၄၃ | ၂၈၂,၀၀၀ |
| Standing Wash Basin | ၆၄၀ | ၅၆၀ | ၁၆၀ | ၆၉၈,၀၀၀ |

၈။ လုပ်ငန်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့သို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ကြောင်းသဘောထားပြန်ကြားခဲ့ပါသည်-

(က) **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ်(၄၉)၊ (၆၃) နှင့်အညီ ပြုစုဆောင်ရွက်ရန်။

(ခ) **ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ်**(Environmental Management Plan-EMP)ကို ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

၉။ ငွေကြေးအထောက်အထားအဖြစ် Fortune International Limited အမည်ဖြင့်ကမ္ဘောဇဘဏ် (လမ်းမတော်ဘဏ်ခွဲ)တွင် ၃၁-၁၂-၂၀၁၇ရက်စွဲဖြင့် ကျပ်၁၀၈,၇၇၆,၇၂၆.၆၂၊ Saturn Bath Co., Ltd. အမည်ဖြင့် Shinhan Bank တွင် ၁၆-၁-၂၀၁၈ ရက်စွဲဖြင့် US$ ၁,၁၀၀,၂၃၀.၇၈ နှင့် Saturn Bath Co., Ltd.၊ Jung In Hwan အမည်ဖြင့် Industrial Bank of Korea (IBK) တွင် ၁၆-၁-၂၀၁၈ ရက်စွဲဖြင့် US$ ၂,၈၀၉,၇၈၈.၂၆ ရှိကြောင်းတင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) စက်ရုံ၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး စီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။

(ဂ) ဥပဒေပုဒ်မ ၃၆(ဂ)အရ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း EIA ဆောင်ရွက်ရမည် ဖြစ်ပါသဖြင့် ကော်မရှင်သို့ အဆိုပြုချက် တင်ပြရမည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း ဖြစ်ပါသည်။

(ဃ) အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍတွင်ပါဝင်ပြီး ဖွံ့ဖြိုးမှု ရှိသောဒေသများဇုန်(၃)တွင် ပါဝင်ကြောင်းစိစစ်တွေ့ရှိရပါသည်။

(င) အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၈ ခုနှစ် ဇန်နဝါရီလ ၂၂ ရက်နေ့တွင် ကျင်းပ ပြုလုပ်သော (၂/၂၀၁၈)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးအစည်းအဝေးတွင် အမှတ်(၃)အကြီးစား စက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းသည် လက်ခံဆောင်ရွက်သင့်သည့်လုပ်ငန်းဖြစ်ကြောင်းဆွေးနွေးခဲ့ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Saturn and Fortune Co., Ltd. မှ ရေချိုးခန်းသုံး ပစ္စည်းနှင့်ဆက်စပ်ပစ္စည်းများထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ အရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

အကြောင်းအရာ။ **ဖက်စပ် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Saturn and Fortune Co., Ltd. တည်ထောင်ကာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ရေချိုးခန်းသုံးပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ | - Saturn and Fortune Co., Ltd.<br>- ဦးမြဟန်(မြန်မာ) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Saturnbath Co., Ltd. (ကိုရီးယား) ၅၀%<br>- Fortune International Limited (မြန်မာ) ၅၀% |
| | လုပ်ငန်းအမျိုးအစား | - ရေချိုးခန်းသုံးပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်-(၈၅)၊မြေတိုင်းရပ်ကွက်အမှတ်-ဖုန်(၁)၊ လှိုင်သာယာ စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>အဆောက်အဦအကျယ်အဝန်း | - ဒေါ်ခင်စပယ်ကြည်<br>- ၁.၉၈၈ ဧက (၈၀၄၅.၁၆ စတုရန်းမီတာ)<br>- တစ်ထပ်အဆောက်အဦ ၁လုံး (Existing Factory)<br>- တစ်ထပ်အဆောက်အဦ ၁ လုံး (New Factory)<br>စုစုပေါင်း ၂ လုံး |
| | နှစ်စဉ်မြေနှင့်အဆောက်အဦ ငှားရမ်းခ | - US$ ၁၀၀,၃၁၀.၃၅<br>(တစ်နှစ်တစ်စတုရန်းမီတာလျှင် US$ ၁၂.၄၇ နှုန်း) |
| | မြေ/အဆောက်အအုံ ငှားရမ်း/ အသုံးပြုခွင့်သက်တမ်း | - ကနဦး နှစ်၂၀ (သက်တမ်းတိုး ၁၀နှစ်) |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ၃၀ နှစ် |
| ၅။ | တည်ဆောက်မှုကာလ | - ၁၈လ |
| ၆။ | စုစုပေါင်းမတည်ငွေရင်း<br>ထည့်ဝင်သည့်အမျိုးအစား | - အမေရိကန်ဒေါ်လာ ၅.၅ သန်း |

| | မြန်မာ (၅၀%) | နိုင်ငံခြား (၅၀%) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|
| ငွေသား | ၀.၄၃၉ | ၀.၄၈၉ | ၀.၉၂၈ |
| စက်ပစ္စည်းတန်ဖိုး(ပြည်ပ) | - | ၁.၉၁၁ | ၁.၉၁၁ |
| မော်တော်ယာဉ်တန်ဖိုး(ပြည်ပ) | - | ၀.၀၅၀ | ၀.၀၅၀ |
| အဆောက်အဦတန်ဖိုး | ၀.၃၀၀ | ၀.၃၀၀ | ၀.၆၀၀ |
| ရုံးသုံးပစ္စည်းတန်ဖိုး | ၀.၀၀၅ | - | ၀.၀၀၅ |
| မြေငှားရမ်းခ | ၂.၀၀၆ | - | ၂.၀၀၆ |
| **စုစုပေါင်း** | ၂.၇၅၀ | ၂.၇၅၀ | ၅.၅၀၀ |

| | | |
|---|---|---|
| ၇။ | ရောင်းချမည့်နည်းစနစ် | - ပြည်ပ ၈၀%၊ ပြည်တွင်း ၂၀ %<br>(ပထမနှစ်နှင့် ဒုတိယနှစ် တွင် ပြည်ပသို့ ၁၀၀% တင်ပို့မည်ဖြစ်ပြီး တတိယနှစ်မှ စတင်၍ ပြည်တွင်းတွင် ၂၀% ရောင်းချ၍ ပြည်ပသို့ ၈၀% တင်ပို့ရောင်းချမည်ဖြစ်ပါသည်) |
| ၈။ | ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်း | |

| | ပြည်ပ (၈၀%) | | ပြည်တွင်း (၂၀%) | |
|---|---|---|---|---|
| | **ရောင်းချမှု အရေအတွက် (Unit)** | **ရောင်းဈေးနှုန်း (US$/Unit)** | **ရောင်းချမှု အရေအတွက် (Unit)** | **ရောင်းဈေးနှုန်း (Kyat/Unit)** |
| ACRYL Bathtub SB-1125 | ၁၃,၆၀၀ | ၁၄၅ | ၃,၄၀၀ | ၁၈၀,၀၀၀ |
| ACRYL Bathtub SB-1904 | ၁၃,၆၀၀ | ၁၄၅ | ၃,၄၀၀ | ၁၈၀,၀၀၀ |
| ACRYL Bathtub Apron | ၃၀,၂၉၀ | ၄၁ | ၇,၈၂၂ | ၅၀,၁၀၀ |
| Bathtub SBL-1401 | ၆၄၀ | ၈၈၂ | ၁၆၀ | ၁,၁၀၃,၀၀၀ |
| Bathtub SBL-1601 | ၆၄၀ | ၁,၁၇၀ | ၁၆၀ | ၁,၄၆၃,၀၀၀ |
| Bathtub SBL-1904 | ၆၄၀ | ၁,၃၀၅ | ၁၆၀ | ၁,၆၃၂,၀၀၀ |
| Wash Basin SWL-0024-2 | ၄၈၀ | ၁,၁၃၄ | ၁၂၀ | ၁,၄၁၈,၀၀၀ |
| Wash Basin SWL-0023 | ၅၆၀ | ၄၉၅ | ၁၄၀ | ၆၁၉,၀၀၀ |
| Wash Basin SWL-0083 | ၅၇၃ | ၂၂၅ | ၁၄၃ | ၂၈၂,၀၀၀ |
| Standing Wash Basin | ၆၄၀ | ၅၆၀ | ၁၆၀ | ၆၉၈,၀၀၀ |

၉။ အခြားတင်ပြချက်

| | **ပြည်တွင်း** | **ပြည်ပ** |
|---|---|---|
| **အရေအတွက်** | ၈၀ ဦး | ၃ ဦး |
| **အမြင့်ဆုံးလစာ** | ကျပ် ၆၀၀,၀၀၀ | US$ ၁,၀၀၀ |
| **အနိမ့်ဆုံးလစာ** | ကျပ် ၁၅၀,၀၀၀ | US$ ၁,၀၀၀ |

- ၁ US$ = ၁၃၀၀ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။
- ကျပ်ငွေအထောက်အထားအဖြစ် Fortune International Limited အမည်ဖြင့်ကမ္ဘောဇဘဏ်(လမ်းမတော်ဘဏ်ခွဲ)တွင် ၃၁-၁၂-၂၀၁၇ ရက်စွဲဖြင့် ကျပ် ၁၀၈,၇၇၆,၇၂၆.၆၂ ရှိကြောင်း တင်ပြထားပါသည်။

| | | |
|---|---|---|
| | | - နိုင်ငံခြားငွေ အထောက်အထားအဖြစ် Saturn Bath Co., Ltd. အမည်ဖြင့် Shinhan Bank တွင် ၁၆-၁-၂၀၁၈ ရက်စွဲဖြင့် US$ ၁,၁၀၁,၂၃၀.၇၈ နှင့် Saturn Bath Co., Ltd.၊ Jung In Hwan အမည်ဖြင့် Industrial Bank of Korea (IBK) တွင် ၁၆-၁-၂၀၁၈ ရက်စွဲဖြင့် US$ ၂,၈၀၉,၇၈၈.၂၆ ရှိကြောင်းတင်ပြထားပါသည်။<br>- Saturn and Fortune Company Limited နှင့် Saturnbath Co., Ltd. တို့ ချုပ်ဆိုမည့် ဖက်စပ်စာချုပ်(မူကြမ်း)အား တင်ပြထားပါသည်။<br>- ဖက်စပ် ကုမ္ပဏီ တည်ထောင်ပြီး ၁နှစ် အတွင်း မြေပိုင်ရှင် ဒေါ်ခင်စပယ်ကြည် အမည်မှ Fortune International Limited သို့ပြောင်းလဲဆောင်ရွက်မည်ဖြစ်ပါသည်။<br>- ကုန်ကြမ်းများအား တရုတ်ပြည်သူ့သမ္မတနိုင်ငံနှင့် ကိုရီးယားသမ္မတနိုင်ငံများမှ တင်သွင်းမည်ဖြစ်ပြီး ထွက်ရှိလာသော ကုန်ချောများကို အမေရိကန်၊ ဥရောပနှင့် ကိုရီးယားသမ္မတ နိုင်ငံများသို့ ပြန်ပို့မည်ဖြစ်ပါသည်။<br>- ထွက်ရှိလာမည့် ကုန်ချောများ၏ ကုန်အမှတ်တံဆိပ်အား ပြည်ပသို့တင်ပို့လျှင် Saturn Bath Brand ဖြင့်အသုံးပြုပြီး ပြည်တွင်းတွင် ရောင်းချမည် ဆိုပါက SNF Brand အသုံးပြုမည်ဖြစ်ပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေး မြှင့်တင်မည့်ကဏ္ဍတွင် ပါဝင်ပြီး ISIC 2220 တွင် အကျုံးဝင်ပါသည်။<br>- အဆိုပြု လုပ်ငန်းသည် ဖွံ့ဖြိုးတိုးတက်မှုဇုန်(၃)တွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |



ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၇၂/၂၀၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဇန်နဝါရီလ ၁၆ ရက်

သို့

Y-033
16/1/18

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Saturn and Fortune Co., Ltd. မှ ရေချိုးခန်းသုံးပစ္စည်းနှင့်ဆက်စပ်ပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့် စပ်လျဥ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀-၁-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၃/ အ-၄၆/ ၂၀၁၈(၀၀၃)

၁။ ကိုရီးယားသမ္မတနိုင်ငံရှိ Saturnbath Co., Ltd. မှ ရှယ်ယာ ၅၀% နှင့် မြန်မာနိုင်ငံရှိ Fortune International Limited မှ ရှယ်ယာ ၅၀% အသီးသီးထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Saturn and Fortune Co., Ltd. တည်ထောင်ကာ မြေကွက်အမှတ်- ၈၅၊ မြေတိုင်းရပ်ကွက်အမှတ်- ဇုန် (၁)၊ လှိုင်သာယာစက်မှုဇုန်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁.၉၈၈ ဧက (၈,၀၄၅.၁၅ စတုရန်းမီတာ) တွင်ရေချိုးခန်းသုံးပစ္စည်းနှင့်ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဥ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၃၀) ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၁၈) လ ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအား ရန်ကုန်တိုင်းဒေသကြီးရှိ မြေ (၈,၀၄၅.၁၅ စတုရန်းမီတာ) တွင် မူလရှိပြီး အဆောက်အဦ (၁) လုံးကို ငှားရမ်းကာ အဆောက်အဦ အသစ် (၁) လုံး ထပ်မံတည်ဆောက်၍ စုစုပေါင်းအဆောက်အဦ (၂) လုံး အသုံးပြုကာ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှ ACRYL Bathtub SB-1125, ACRYL Bathtub SB- 1904, ACRYL Bathtub Apron, Bathtub SBL- 1401, Bathtub SBL- 1601, Bathtub SBL- 1904, Wash Basin SWL- 0024-2, Wash Basin SWL- 0023, Wash Basin SWL- 0083, Standing Wash Basin စသည့် ရေချိုးခန်းသုံးနှင့် ဆက်စပ်ပစ္စည်း (၁၀) မျိုးထုတ်လုပ်ကာ ပြည်တွင်း/ပြည်ပသို့ ထုတ်လုပ်ရောင်းချသွားမည် ဖြစ်ကြောင်း၊

(ဃ) ထုတ်လုပ်မှုအနေဖြင့်ပထမနှစ်တွင်အမေရိကန်ဒေါ်လာ (၃) သန်းကျော်မှနှစ် (၃၀) အတွင်း အမေရိကန်ဒေါ်လာ (၁၀) သန်းကျော်အထိ ထုတ်လုပ်ရောင်းချသွားမည် ဖြစ်ကြောင်း၊

(င) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင်ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသောဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ ရင်းနှီးမြှုပ်နှံရန် အဆိုပြုလာသော လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Saturn and Fortune Co., Ltd. မှ ရေချိုးခန်းသုံးပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် အဆောက်အဦများပြုပြင် တည်ဆောက်ခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် မြေသား အမှုန်အမွှားများ၊ ဖုန်မှုန့်များနှင့် ယာဉ်ယန္တယားများနှင့် စက်ပစ္စည်းများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် မြေထု၊ ရေထုနှင့် လေထု ညစ်ညမ်းခြင်း၊

(ခ) ဓါတုပစ္စည်းများအား စနစ်တကျကိုင်တွယ်ခြင်း၊ အသုံးပြုခြင်း၊ စီမံခန့်ခွဲခြင်းများဆောင်ရွက်ရန်လိုအပ်ပြီး စနစ်တကျစီမံခန့်ခွဲမှု မပြုလုပ်နိုင်ပါက လေထုညစ်ညမ်းခြင်း၊ ရေထုညစ်ညမ်းခြင်း၊ မြေဆီလွှာ ညစ်ညမ်းခြင်းစသည့် ပတ်ဝန်းကျင်ထိခိုက်မှုများနှင့် ကျန်းမာရေးဆိုင်ရာ ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

(ဂ) လုပ်ငန်းစဉ်တွင် အလွန်သေးငယ်သော အမှုန်အမွှားများထွက်ရှိမည့် အပြင်စက်ရုံလည်ပတ်ခြင်းမှ ကာဗွန်ဒိုင်အောက်ဆိုဒ်၊ ကာဗွန်မိုနောက်ဆိုဒ်အစရှိသည့် ဓါတ်ငွေ့များ ထုတ်လွှတ်အခိုးအငွေ့များ ထွက်ရှိခြင်းကြောင့် လေထုညစ်ညမ်းခြင်းနှင့် စက်ရုံတွင်းဝန်ထမ်းများ၏ အဆုတ်နှင့် အသက်ရှူလမ်းကြောင်းများ ထိခိုက်နိုင်ခြင်း၊

(ဃ) စက်ရုံမှထွက်ရှိလာသော စွန့်ပစ်အစိုင်အခဲနှင့် စွန့်ပစ်အရည်များတွင် အက်စစ်ဓါတ်လွန်ကဲခြင်း၊ အယ်လ်ကာလီဓါတ်လွန်ကဲခြင်း၊ အပူချိန်မြင့်မားခြင်း၊ အဆိပ်အတောက်ဖြစ်စေသော ဓါတုပစ္စည်းများပါဝင်နေခြင်း အစရှိသည့်အခြေအနေများတွင် သန့်စင်မှုမပြုလုပ်ဘဲ မြစ်၊ ချောင်း၊ အင်းအိုင်များအတွင်းသို့ တိုက်ရိုက်စွန့်ခြင်းကြောင့် ရေထုညစ်ညမ်းခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Saturn and Fortune Co., Ltd. မှ ရေချိုးခန်းသုံးပစ္စည်းနှင့်ဆက်စပ်ပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဆောင်ရွက်ရလုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ် ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက် စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေး

မည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများ အတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက် ပါ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ